



# ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်
# မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်
# အတည်ပြုမိန့်

အတည်ပြုအမိန့်အမှတ် ၁၀၃ /၂၀၁၈ ၂၀၁၈ ခုနှစ်၊ ဇွန် လ 23 ရက်

မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်သည် မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ဥပဒေပုဒ်မ ၂၅၊ ပုဒ်မခွဲ(ဃ) အရ ဤအတည်ပြုမိန့်ကိုထုတ်ပေးလိုက်သည် -

(၁) ရင်းနှီးမြှုပ်နှံသူအမည် ကြေးအိုးကြီး ပက်တ်ထရိုလီယမ် ပရိုဒတ် ကုမ္ပဏီလီမိတက်

(၂) နိုင်ငံသား -

(၃) နေရပ်လိပ်စာ အမှတ်-၃၅၃၊ အထက်ပုဇွန်တောင်လမ်း၊ စက်ဆန်းရပ်ကွက်၊ မင်္ဂလာတောင်ညွန့်မြို့နယ်၊ ရန်ကုန်မြို့

(၄) ပင်မအဖွဲ့အစည်းအမည်နှင့်လိပ်စာ -

(၅) ဖွဲ့စည်းရာအရပ် မြန်မာနိုင်ငံ

(၆) ရင်းနှီးမြှုပ်နှံသည့်လုပ်ငန်းအမျိုးအစား အင်ဂျင်ဝိုင်ရောစပ်ထုတ်လုပ်၍ ဖြန့်ဖြူး ရောင်းချခြင်းလုပ်ငန်း

(၇) ရင်းနှီးမြှုပ်နှံသည့်အရပ်ဒေသ(များ) မြေကွက်အမှတ်၆၈၊ မြောင်းတကာသံမဏိစက်မှုဇုန်၊ မှော်ဘီမြို့နယ်၊ ရန်ကုန်တိုင်းဒေသကြီး

(၈) နိုင်ငံခြားမတည်ငွေရင်းပမာဏ -

(၉) နိုင်ငံခြားမတည်ငွေရင်းယူဆောင်လာရမည့်ကာလ -

(၁၀) စုစုပေါင်းမတည်ငွေရင်းပမာဏ(ကျပ်) ကျပ် ၆,၁၀၀.၀၀ သန်း (အမေရိကန်ဒေါ်လာ ၂.၇၇ သန်းအပါအဝင် စုစုပေါင်းကျပ်သန်းခြောက်ထောင့်တစ်ရာတိတိ)

(၁၁) တည်ဆောက်မှု/ပြင်ဆင်မှုကာလ ၆ လ

(၁၂) အတည်ပြုမိန့် သက်တမ်း -

(၁၃) ရင်းနှီးမြှုပ်နှံမှုပုံစံ မြန်မာနိုင်ငံသား ရင်းနှီးမြှုပ်နှံမှု

(၁၄) မြန်မာနိုင်ငံတွင် ဖွဲ့စည်းမည့် ကုမ္ပဏီအမည်

KYAY 'O' KYEE PETROLEUM PRODUCTS COMPANY LIMITED

(ကြေးအိုးကြီး ပက်တ်ထရိုလီယမ် ပရိုဒတ် ကုမ္ပဏီလီမိတက်)

Thaung Tun

ဥက္ကဋ္ဌ

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်




**ကန့်သတ်**

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်

**မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်**

အမှတ်(၁)၊ သစ္စာလမ်း၊ ရန်ကင်းမြို့နယ်၊ ရန်ကုန်မြို့

စာအမှတ်၊ မရက- ၅(အ)/အ-၀၂၉/၂၀၁၈ ( ၂၁၇ )

ရက်စွဲ၊ ၂၀၁၈ ခုနှစ် ဇွန် လ ၂၅ ရက်

အကြောင်းအရာ။ **Kyay 'O' Kyee Petroleum Products (ကြေးအိုးကြီးပက်တ်ထရိုလီယမ်ပရိုဒတ်ကုမ္ပဏီလီမိတက်) ၏ အင်ဂျင်ဝိုင်ရောစပ် ထုတ်လုပ်၍ ဖြန့်ဖြူးရောင်းချခြင်းလုပ်ငန်း အတည်ပြုမိန့်အပေါ် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ဆုံးဖြတ်ချက်**

ရည် ညွှန်း ချက်။ Kyay 'O' Kyee Petroleum Products (ကြေးအိုးကြီးပက်တ်ထရိုလီယမ်ပရိုဒတ်ကုမ္ပဏီလီမိတက်) ၏ ၁-၆-၂၀၁၈ ရက်စွဲပါစာ

၁။ Kyay 'O' Kyee Petroleum Products (ကြေးအိုးကြီးပက်တ်ထရိုလီယမ်ပရိုဒတ်ကုမ္ပဏီလီမိတက်) မှ မြေကွက်အမှတ်-၆၈၊ မြောင်းတကာသံမဏိစက်မှုဇုန်၊ မှော်ဘီမြို့နယ်၊ ရန်ကုန်တိုင်းဒေသကြီးရှိ မြေဧရိယာ ၂.၂၅၁ ဧကတွင် အင်ဂျင်ဝိုင် ရောစပ်ထုတ်လုပ်၍ ဖြန့်ဖြူးရောင်းချခြင်းလုပ်ငန်းအား မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန် အတည်ပြုလွှာတင်ပြလာခြင်း အား ၂၀၁၈ ခုနှစ် ဇွန် လ ၂၂ ရက် နေ့တွင် ကျင်းပပြုလုပ်သော မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှု ကော်မရှင်၏ (၈/၂၀၁၈) ကြိမ်မြောက် အစည်းအဝေး၌ တင်ပြခဲ့ရာ ခွင့်ပြုကြောင်းဆုံးဖြတ်ခဲ့ပါသည်။ အဆိုပါဆုံးဖြတ်ချက်အရ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သည် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုဥပဒေ၊ နည်းဥပဒေများကို ကျင့်သုံးလျက် Kyay 'O' Kyee Petroleum Products (ကြေးအိုးကြီးပက်တ်ထရိုလီယမ်ပရိုဒတ်ကုမ္ပဏီလီမိတက်) အား အင်ဂျင်ဝိုင်ရောစပ်ထုတ်လုပ်၍ ဖြန့်ဖြူးရောင်းချခြင်းလုပ်ငန်း ဆောင်ရွက်နိုင်ရန်အတွက် အတည်ပြုမိန့်အမှတ်၊ ၁၀၃/၂၀၁၈ ကို ထုတ်ပေးလိုက်သည်။

၂။ Kyay 'O' Kyee Petroleum Products (ကြေးအိုးကြီးပက်တ်ထရိုလီယမ် ပရိုဒတ်ကုမ္ပဏီလီမိတက်)အနေဖြင့် ဤအတည်ပြုမိန့်အရ လုပ်ငန်းဆောင်ရွက်ရာတွင် အောက်ပါအချက်များကို လိုက်နာဆောင်ရွက်ရမည်-

(က) Kyay 'O' Kyee Petroleum Products (ကြေးအိုးကြီးပက်တ်ထရိုလီယမ်ပရိုဒတ် ကုမ္ပဏီလီမိတက်) အနေဖြင့် ဤအတည်ပြုမိန့်အရ ဝန်ဆောင်မှုလုပ်ငန်း ဆောင်ရွက်ရာတွင် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုဥပဒေ အခန်း (၁၂) အရ မြေအသုံးပြုခွင့် လျှောက်ထားနိုင်သည်။

(ခ) Kyay 'O' Kyee Petroleum Products (ကြေးအိုးကြီးပက်တ်ထရိုလီယမ် ပရိုဒတ် ကုမ္ပဏီလီမိတက်) သည် ဤအတည်ပြုမိန့်အရ **ဝန်ဆောင်မှု ရည်မှန်းချက်များကို အနိမ့်ဆုံးရည်မှန်းချက်** များအဖြစ် အကောင်အထည်ဖော် ဆောင်ရွက်ရမည်။

(ဂ) Kyay 'O' Kyee Petroleum Products (ကြေးအိုးကြီးပက်တ်ထရိုလီယမ် ပရိုဒတ် ကုမ္ပဏီလီမိတက်) အနေဖြင့် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုဥပဒေပုဒ်မ ၆၅ နှင့် နည်းဥပဒေအခန်း (၂၀) တို့ တွင် ပြဋ္ဌာန်းထားသည့် ရင်းနှီးမြှုပ်နှံသူ၏ တာဝန်ဝတ္တရားများနှင့်အညီ လိုက်နာဆောင် ရွက်ရမည်။

(ဃ) Kyay 'O' Kyee Petroleum Products (ကြေးအိုးကြီးပက်တ်ထရိုလီယမ် ပရိုဒတ်ကုမ္ပဏီလီမိတက်)သည် အတည်ပြုလုပ်ငန်းဆောင်ရွက်ရာတွင် သက်ဆိုင်ရာ ဥပဒေ၊ နည်းဥပဒေ၊ စည်းမျဉ်း၊ စည်းကမ်းများနှင့်အညီ ဆောင်ရွက်ရမည်။

(င) Kyay 'O' Kyee Petroleum Products (ကြေးအိုးကြီးပက်တ်ထရိုလီယမ် ပရိုဒတ်ကုမ္ပဏီလီမိတက်) သည် ရင်းနှီးမြှုပ်နှံမှုအား လုပ်ငန်းသက်တမ်းကာလ အတွင်း အခြားပုဂ္ဂိုလ်တစ်ဦးဦးသို့ တစ်ဆင့်ငှားရမ်းခြင်း၊ ပေါင်နှံခြင်း၊ အစုရှယ်ယာ လွှဲပြောင်းခြင်းနှင့် လုပ်ငန်း လွှဲပြောင်းခြင်းတို့ကို မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှု ဥပဒေ ပုဒ်မ ၇၂ နှင့် နည်းဥပဒေ ၁၉၁ အရ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှု ကော်မရှင်သို့ တင်ပြရမည်။

(စ) Kyay 'O' Kyee Petroleum Products (ကြေးအိုးကြီးပက်တ်ထရိုလီယမ် ပရိုဒတ်ကုမ္ပဏီလီမိတက်) သည် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှု နည်းဥပဒေ ၁၉၆ အရ အတည်ပြုမိန့် သို့မဟုတ် သက်သာခွင့်ရရှိထားသော ရင်းနှီးမြှုပ်နှံသူသည် နှစ်စဉ် ဘဏ္ဍာရေးနှစ် ကုန်ဆုံးပြီးနောက် သုံးလအတွင်း သတ်မှတ်ချက်ပါ အသေးစိတ်များပါရှိသည့် နှစ်စဉ်အစီ ရင်ခံစာအား သတ်မှတ်ပုံစံဖြင့် ကုမ္ပဏီ၏ ဝက်(ဘ်)ဆိုဒ် (သို့မဟုတ်) ကော်မရှင်ရုံး၏ ဝက် (ဘ်)ဆိုဒ်သို့ တင်ပြရမည်။

(ဆ) Kyay 'O' Kyee Petroleum Products (ကြေးအိုးကြီးပက်တ်ထရိုလီယမ် ပရိုဒတ် ကုမ္ပဏီလီမိတက်) သည် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုနည်းဥပဒေ ၁၉၇ အရ လုပ်ငန်း ဆောင်ရွက်နေစဉ်အတွင်း လုပ်ငန်းအစီရင်ခံစာကို သုံးလလျှင်တစ်ကြိမ် ကော်မရှင်က သတ်မှတ်တောင်းခံသည့်ပုံစံဖြင့် တင်ပြရမည်။

၃။ Kyay 'O' Kyee Petroleum Products (ကြေးအိုးကြီးပက်တ်ထရိုလီယမ် ပရိုဒတ် ကုမ္ပဏီလီမိတက်) သည် အတည်ပြုလုပ်ငန်း ဆောင်ရွက်မည့် မြေအသုံးပြုခွင့်နှင့်ပတ်သက်၍ မြေအသုံးချမှုပြောင်းလဲခြင်း လုပ်ငန်းစဉ်အား သက်ဆိုင်ရာဥပဒေနှင့်အညီ အကောင်အထည်ဖော်ဆောင်ရွက်ပြီးပါက ကော်မရှင်သို့ ပြန်လည်တင်ပြသွားရမည်။

၄။ Kyay 'O' Kyee Petroleum Products (ကြေးအိုးကြီးပက်တ်ထရိုလီယမ် ပရိုဒတ် ကုမ္ပဏီလီမိတက်) သည် အတည်ပြုလုပ်ငန်းဆောင်ရွက်ရာတွင် လုပ်ငန်းသဘာဝအရဖြစ်စေ၊ အခြားလိုအပ်ချက်အရဖြစ်စေ သက်ဆိုင်သည့် ပြည်ထောင်စုဝန်ကြီးဌာနများ၊ အစိုးရဌာနနှင့် အဖွဲ့အစည်းများမှ လိုင်စင် သို့မဟုတ် ခွင့်ပြုမိန့်ရယူရန် လိုအပ်လျှင်ဖြစ်စေ၊ သက်ဆိုင်ရာဌာနနှင့် မြေငှားရမ်းခြင်း စာချုပ်ချုပ်ဆိုသည် ဖြစ်စေ၊ မှတ်ပုံတင်ရန်လိုအပ်လျှင်ဖြစ်စေ သက်ဆိုင်ရာဌာန၏ သတ်မှတ်ချက်များနှင့်အညီ ဆောင်ရွက်ပြီး မိတ္တူ(၅) စုံစီအား ကော်မရှင်သို့ပေးပို့ရမည်။

(signature)

(သောင်းထွန်း)
ဥက္ကဋ္ဌ

**ဖြန့်ဝေခြင်း**

ပြည်ထဲရေးဝန်ကြီးဌာန
ပြည်ထောင်စုအစိုးရအဖွဲ့ရုံးဝန်ကြီးဌာန
သယံဇာတနှင့်သဘာဝပတ်ဝန်းကျင်ထိန်းသိမ်းရေးဝန်ကြီးဌာန
လျှပ်စစ်နှင့်စွမ်းအင်ဝန်ကြီးဌာန
အလုပ်သမား၊ လူဝင်မှုကြီးကြပ်ရေးနှင့်ပြည်သူ့အင်အားဝန်ကြီးဌာန
စီးပွားရေးနှင့်ကူးသန်းရောင်းဝယ်ရေးဝန်ကြီးဌာန
စီမံကိန်းနှင့်ဘဏ္ဍာရေးဝန်ကြီးဌာန
မြန်မာနိုင်ငံတော်ဗဟိုဘဏ်
ရန်ကုန်တိုင်းဒေသကြီးရင်းနှီးမြှုပ်နှံမှုကော်မတီ
ရန်ကုန်တိုင်းဒေသကြီးအစိုးရအဖွဲ့ရုံး၊ ရန်ကုန်မြို့
ညွှန်ကြားရေးမှူးချုပ်၊ ပတ်ဝန်းကျင်ထိန်းသိမ်းရေးဦးစီးဌာန
ညွှန်ကြားရေးမှူးချုပ်၊ ရေနံနှင့်သဘာဝဓာတ်ငွေ့စီမံရေးဦးစီးဌာန

ညွှန်ကြားရေးမှူးချုပ်၊ အလုပ်သမားညွှန်ကြားရေးဦးစီးဌာန

ညွှန်ကြားရေးမှူးချုပ်၊ လူဝင်မှုကြီးကြပ်ရေးနှင့် အမျိုးသားမှတ်ပုံတင်ရေးဦးစီးဌာန

ညွှန်ကြားရေးမှူးချုပ်၊ ကုန်သွယ်ရေးဦးစီးဌာန

ညွှန်ကြားရေးမှူးချုပ်၊ ရင်းနှီးမြှုပ်နှံမှုနှင့်ကုမ္ပဏီများညွှန်ကြားမှုဦးစီးဌာန

ညွှန်ကြားရေးမှူးချုပ်၊ အမျိုးသားမှတ်တမ်းများမော်ကွန်းတိုက်ဦးစီးဌာန

ညွှန်ကြားရေးမှူးချုပ်၊ ပြည်တွင်းအခွန်များဦးစီးဌာန

ညွှန်ကြားရေးမှူးချုပ်၊ အကောက်ခွန်ဦးစီးဌာန

တိုင်းဒေသကြီးဦးစီးမှူးရုံး၊ရန်ကုန်တိုင်းဒေသကြီး၊ရင်းနှီးမြှုပ်နှံမှုနှင့်ကုမ္ပဏီများညွှန်ကြားမှုဦးစီးဌာန

Kyay 'O' Kyee Petroleum Products (ကြေးအိုးကြီးပက်တ်ထရိုလီယမ်ပရိုဒတ်ကုမ္ပဏီလီမိတက်)